


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ခွင့်ပြုမိန့်



ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၆၆ /၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးလဆန်

(ခ) **အဘ အမည်** ဦးကရင်ကမ်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ်** ၁/မကန(နိုင်) ၀၈၂၀၀၉

(ဃ) **နေရပ်လိပ်စာ** အမှတ်-၂၈၊ ၇ မိုင် ကုန်းအိမ်ရာ၊ ပြည်လမ်း နှင့် ပါရမီလမ်းထောင့်၊ မရမ်းကုန်း မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** မူလလမ်းအဟောင်းအား BOT စနစ်ဖြင့် လမ်း အဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ကချင်ပြည်နယ်၊ မိုးမောက်- လွယ်ဂျယ် လမ်းပိုင်း ၄၇ မိုင်

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၀၈၇၉.၅၀ သန်း (အမေရိကန်ဒေါ်လာ ၆.၁၅ သန်းခန့် အပါအဝင် စုစုပေါင်း ကျပ် နှစ်သောင်း ရှစ်ရာ ခုနှစ်ဆယ့် ကိုးသန်းနှင့် ငါးသိန်းတိတိ )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၆၆ /၂၀၁၅(မနသ)

၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်) မှ ကချင် ပြည်နယ်ရှိ မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း (၄၇)မိုင် မူလလမ်းအဟောင်းအား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်း အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် ဇူလိုင်လ ၃ ရက် နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာ "ကချင်ပြည်နယ်၊ မိုးမောက်-လွယ်ဂျယ် လမ်းပိုင်း(၄၇)မိုင် မူလလမ်း အဟောင်းအား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုကြောင်း"ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံး လျက် Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီ လီမိတက်) မူလလမ်း အဟောင်းအား BOTစနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၆၆/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၃။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ သားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသော အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန် တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့်

နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဈ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေးစံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှုစသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၅။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၆။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၇။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)သည် ကချင်ပြည်နယ်၊ မိုးမောက်-လွယ်ဂျယ် လမ်းပိုင်း(၄၇)မိုင် မူလ လမ်းအဟောင်းအား BOT စနစ်ဖြင့်ဆောင်ရွက်ရာတွင်ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာန နှင့်

ချုပ်ဆိုမည့် ဖောက်လုပ်ပြုပြင် အဆင့်မြှင့်တင်ခြင်း၊ လုပ်ငန်း လုပ်ကိုင်ခြင်းနှင့် လွှဲပြောင်းပေးခြင်း (Build Operate And Transfer ) ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများ အတိုင်းလိုက်နာ ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာနနှင့် Nothern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီ လီမိတက်) တို့ ကချင်ပြည်နယ်၊ မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း (၄၇)မိုင် မူလလမ်းအဟောင်း အား BOTစနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုး ၍ ထိုက်သင့်သော တံဆိပ် ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤ ကော်မရှင်သို့ မပျက် မကွက်ပေးပို့တင်ပြရမည်။

၉။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီ လီမိတက်)သည် ကချင်ပြည်နယ်၊ မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း (၄၇)မိုင် မူလ လမ်း အဟောင်းအား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းသက်တမ်းမှာ ကနဦး(၄၅)နှစ် နှင့် ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် (၁၀)နှစ်(၁)ကြိမ် သက်တမ်းတိုးမြှင့်နိုင်သည်။ သက်တမ်းကို ရေတွက်ရာတွင် ပဋိညာဉ် စာချုပ် အပိုဒ် ၂ ပါ လုပ်ငန်းများကို အပြီးဆောင်ရွက်ပြီးစီးသည့် နေ့ရက်(သို့မဟုတ်)လုပ်ငန်း ကာလ(၃)နှစ် ထက်စော၍ လုပ်ငန်းပြီးစီးကြောင်း လက်မှတ်ရေးထိုးပေးသည့်နေ့ ထိုနှစ်ရပ်အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်သည်။

၁၀။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)သည်ကောက်ခံရရှိသည့်လမ်းအသုံးပြုခမှ“လမ်းဦးစီးဌာနသို့”အောက်ပါအတိုင်း ပေးသွင်းရမည်-

| | | |
|---|---|---|
| (က) | ပထမ(၅)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၆)နှစ်မြောက်မှ (၁၅)နှစ်မြောက်အထိ(၁၀)နှစ် | ၅% |
| (ဂ) | (၁၆)နှစ်မြောက်မှ (၂၅)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% |
| (ဃ) | (၂၆)နှစ်မြောက်မှ (၃၅)နှစ်မြောက်အထိ(၁၀)နှစ် | ၁၅% |
| (င) | (၃၆)နှစ်မြောက်မှ (၄၅)နှစ်မြောက်အထိ(၁၀)နှစ် | ၂၀% |

(စ) ၄၅ နှစ်ကျော် ကာလအတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်းပေးသွင်းရန်ဖြစ်သည်။

၁၁။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)သည်လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ(၄၅)နှစ်သို့မဟုတ် လုပ်ငန်းဆက်လက် လုပ်ကိုင်ရန် နောက်ထပ် တိုးမြှင့် ကာလများပြီးဆုံးပါက အဆိုပါလမ်းနှင့် ဂိတ်များကို ဖောက်လုပ် ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့်အနေအထားအတိုင်း လမ်းဦးစီးဌာနသို့ အဖိုးစားနား တစ်စုံ တစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည်။

၁၂။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေး နှင့် စာရင်း ဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၃။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၄။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၇။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ သက်ဆိုင်ရာ ဝန်ကြီးဌာနများနှင့်

အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၈။ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်)သည် အဆိုပြုလမ်းပိုင်းတရားဝင် ဖွင့်လှစ်သည့်နေ့ရက် (စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်) ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် **တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။** မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထား သော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ် ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄/မ-၁၄၇၂/၂၀၁၅(၅၅၇-၈)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၄ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ကချင်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မြစ်ကြီးနားမြို့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

-မန်နေးဂျင်းဒါရိုက်တာ ၊ Northern Royal Jade Company Limited (မြောက်ပိုင်း တော်ဝင်ကျောက်စိမ်း ကုမ္ပဏီလီမိတက်)

မြောက်ပိုင်းတော်ဝင်ကျောက်စိမ်းကုမ္ပဏီလီမိတက်

မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း

အုပ်ချုပ်ရေးမှူးရုံး နှင့် လမ်း၊တံတား ကောက်ခံရေးစခန်းတည်နေရာပြပုံ



အုပ်ချုပ်ရေးမှူးရုံး/လမ်းပြုပြင်ရေးစခန်းနေရာများ



လမ်းတံတားအသုံးပြုခကောက်ခံမည့်နေရာများ

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ တင်ပြလာသော မြောက်ပိုင်းတော်ဝင်ကျောက်စိမ်း ကုမ္ပဏီလီမိတက်၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၉-၃-၂၀၁၅ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - စီမံကိန်းစီစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန | ၁၆-၃-၂၀၁၅ | ၁၉-၃-၂၀၁၅ | |
| ၃ | PAT အစည်းအဝေးတင်ပြခြင်း | ၂၃-၃-၂၀၁၅ | - | |
| ၄ | PATဆုံးဖြတ်ချက်အကြောင်းကြားခြင်း | ၃၁-၃-၂၀၁၅ | - | |
| ၅ | ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် ပြန်လည် ပြင်ဆင်တင်ပြခြင်း | ၁၆-၆-၂၀၁၅ | - | |
| ၆ | **စုစုပေါင်းကြာမြင့်ရက်** | (၉၉)ရက် | | |

# မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်ရှိ မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း (၄၇)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း နှင့် စပ်လျဉ်းသည့်အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးလဆန်(အဘ-ဦးကရင်ကမ်) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ကချင်ပြည်နယ်ရှိ မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း(၄၇) မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့် မြှင့်တင်တိုးချဲ့ တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ | - မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း ၄၇ မိုင် |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၂၀၈၇၉.၅၀ သန်း ( US$ ၆.၁၅ သန်း အပါအဝင်)** |
| | - ငွေပမာဏ | ကျပ် ၁၄၄၁၅.၉၁ သန်း |
| | - အဆောက်အဦ | ကျပ် ၁၈၈.၈၀ သန်း |
| | - စက်ပစ္စည်းကိရိယာများ | ကျပ် ၃၄၀၅.၇၈ သန်း (US$ ၃.၃၄ သန်း) |
| | - လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၂၈၆၆.၂၀ သန်း (US$ ၂.၈၁ သန်း) |
| | - ပရိဘောဂများ | ကျပ် ၂.၈၁ သန်း |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦးနှစ်(၄၅)နှင့်နောက်ထပ်(၁၀)နှစ် (၁)ကြိမ် |
| ၈။ | တည်ဆောက်ရေးကာလ | - (၃)နှစ် |
| ၉။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | - ဝင်ငွေခွန် | - ကျပ် ၄၁.၂၀ သန်း |
| | - လမ်းတံတားဖြတ်သန်းခရငွေ | - ကျပ် ၅၀.၂၄ သန်း |
| ၁၀။ | အရင်းကြေကာလ | - (၂၉)နှစ် နှင့်(၁၀)လ |
| ၁၁။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) | - ၂.၇၇ % |
| ၁၂။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - တည်ဆောက်ရေးကာလ ၁၁၆၀ ဦး<br>လုပ်ငန်းဆောင်ရွက်သည့်ကာလ ၆၀ ဦး |
| ၁၃။ | အခြားတင်ပြချက် | - ဌာနနှင့် ကုမ္ပဏီတို့ ချုပ်ဆိုထားသည့် BOT လုပ်ငန်း သဘောတူ စာချုပ်(မူကြမ်း)နှင့် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တင်ပြထားပါသည်။<br>- စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-<br>(က)လမ်းဖောက်လုပ်သည့်လုပ်ငန်းကာလ(တည်ဆောက်ရေးကာလ)မှာ(၃)နှစ်ဖြစ်ပါသည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၉ ဂ(၁) ] |

| | | |
|---|---|---|
| | | (ခ) လုပ်ငန်း သက်တမ်း ကာလမှာ (၄၅)နှစ် ဖြစ်ပြီး၊ နောက်ထပ် (၁၀)နှစ်(၁)ကြိမ်သက်တမ်းတိုးမြှင့်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံတင်ပြနိုင်သည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ဃ]<br>(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁) ရာခိုင်နှုန်းနှင့်ညီမျှသော ငွေကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင် စည်းကမ်း ချက်များမပါရှိဘဲ ပြန်လည်ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသူထံ ပေးအပ် ရမည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၆]<br>(ဃ)တံတားအသုံးပြုခများကို ကောက်ခံရာတွင် ပေ (၁၈၀) အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများ အား လေလံစနစ်ဖြင့်လည်းကောင်း၊ သက်ဆိုင်ရာ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတား များအတွက် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ငန်း လုပ်ကိုင်ခွင့် ရသူတို့၏ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့် ကောက်ခံရမည်ဖြစ်သည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၈ ခ(၁) ]<br>(င) စတင်ကောက်ခံသည့် ပထမ(၅)နှစ် ကာလအတွက် လမ်း အသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်း ကို ကင်းလွတ်ခွင့် ပြုသည်။ ကျန်ကာလအတွက် အောက်ပါ သတ်မှတ် ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၅-ပ ]<br>(၁) ပထမ(၅)နှစ်အတွက် — ကင်းလွတ်ခွင့်ကာလ<br>(၂) (၆)နှစ်မြောက်မှ(၁၅)နှစ်မြောက်အထိ (၁၀)နှစ် — ၅%<br>(၃) (၁၆)နှစ်မြောက်မှ(၂၅)နှစ်မြောက်အထိ (၁၀)နှစ် — ၁၀%<br>(၄) (၂၆)နှစ်မြောက်မှ(၃၅)နှစ်မြောက်အထိ (၁၀)နှစ် — ၁၅%<br>(၅) (၃၆)နှစ်မြောက်မှ(၄၅)နှစ်မြောက်အထိ (၅)နှစ် — ၂၀%<br>(၆) ၄၅ နှစ် ကျော် ကာလအတွက် အချိန် တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော် မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်း ရန် ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | (စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ စာဖြင့်ရေးသားထားသောခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်း တစ်စိတ်တစ်ဒေသကို ထပ်ဆင့် ငှားရမ်းခြင်းမပြုရ။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ထ ]<br>(ဆ)လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ၏စာဖြင့် ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်း၊ တံတား အသုံးပြုခကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့်နှုန်းထားများကိုပြောင်းလဲခြင်းမပြုရ။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ဓ ]<br>(ဇ)လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ ကုန်ဆုံးပါက အဆိုပါ လမ်း၊ တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ကောင်းမွန်သော အနေအထားအတိုင်း လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူထံ အဖိုးစားနားမဲ့လွှဲပြောင်းပေးရမည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၂၀ ] |

| | |
|---|---|
| ကုမ္ပဏီအမည် | - မြောက်ပိုင်းတော်ဝင်ကျောက်စိမ်း ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း |
| တည်နေရာ | - မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း(၄၇)မိုင် |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၀၈၇၉.၅၀ သန်း (US$ ၆.၁၅ သန်း အပါအဝင်) |
| လုပ်ငန်းသက်တမ်း | - နှစ်(၄၅) |
| အရင်းကြေကာလ | - ၂၉ နှစ်နှင့် ၁၀ လ |
| IRR | - ၂.၇၇ % |

အထက်ပါ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၁၃.၆၅ | |
| ၄ | လမ်းတံတားဖြတ်သန်းခရငွေ | | ၂၆၀.၃၂ |
| ၅ | ဝင်ငွေခွန် | | ၂၂၄.၈၆ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၂၀.၇၇ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၁.၅၀ |
| ၈ | CSR (၀.၅%) | | ၉၈၁.၅၅ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၆၀ ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | **ကျပ် ၃၁၆.၆၅ သန်း** | **ကျပ် ၁၅၉၁.၁၇ သန်း** |
| | Cost : Benefit | ၁ : ၅ | |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၄/မ- ၁၄၇၂ /၂၀၁၅( ၄၅၃ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၂၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်ရှိ မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း (၄၇)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြောက်ပိုင်းတော်ဝင်ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်ရှိ မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း(၄၇)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးလဆန်(အဘ-ဦးကရင်ကမ်)မှ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။ ယင်းအဆိုပြုချက်အား ၂၀၁၅ ခုနှစ် မတ်လ ၂၃ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၂/၂၀၁၅ အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့်ကုမ္ပဏီတို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့်အညီ ချုပ်ဆိုမည့် BOT ပဋိညာဉ်စာချုပ် (မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ) မှာ (၃)နှစ်ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၉-ဂ(၁)]

(ခ) လုပ်ငန်း သက်တမ်းကာလမှာ (၄၅)နှစ် ဖြစ်ပြီး နှစ်ဖက်သဘောတူပါက (၁၀)နှစ် တစ်ကြိမ်တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလကို ရေတွက်ရာတွင် ခွင့်ပြု သတ်မှတ်ထားသည့် လုပ်ငန်း ကာလ(၃)နှစ်အထိ စီမံကိန်း လုပ်ငန်းပါ ဆောင်ရွက် ရမည့်လုပ်ငန်းများကိုအပြီးဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်)လုပ်ငန်းသက်တမ်း ကာလ (၃)နှစ်ထက်စော၍ ပြီးစီးပြီး လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးသည့် နေ့ရက်၊ ထိုနှစ်ရပ်အနက်စောရာ နေ့ရက်ကာလမှစတင် သတ်မှတ်မည်ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၂၃-(ခ/ဂ)]

(ဂ) ကုမ္ပဏီမှ အောက်ပါလမ်းအသုံးပြုခနှုန်းများအတိုင်း ကောက်ခံမည်ဖြစ်ပါသည်- [ စာချုပ်အပိုဒ် ၈(က) ]

| | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခ တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁ | သုံးဘီးဆိုင်ကယ် | ၅ |
| ၂ | ထော်လာဂျီ(ဒိန်းဒေါင်း)၊ ဆလွန်း၊ဗင်၊ (၂)တန်အောက် | ၅ |

ကန့်သတ်

| | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခ တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၃ | Farm Truck(၂ လုံးထိုး)၊ Double Cab၊ Pajero ၊ Parado ၊ Micro Bus၊ Super Custom ၊ ခရီးသည်ယာဉ်(လတ်) | ၁၅ |
| ၄ | ဟိုင်းလတ်၊ လိုက်ထရပ်(သေး) | ၂၀ |
| ၅ | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ်(လတ်)(၄) ဘီးကား | ၂၀ |
| ၆ | Farm Truck(၄ လုံးထိုး)၊ | ၃၀ |
| ၇ | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ်(ကိုယ်ထည် အလျား= ၁၅ ပေ အောက်)၆ ဘီးကား Mini Bus ခရီးသည် (၂၄)ဦး၊ ဟီးနိုး (သေး)(၂၅)ဦး | ၃၀ |
| ၈ | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ်(ကိုယ်ထည် အလျား= ၁၅ ပေ အထက်) (၆) ဘီး | ၇၅ |
| ၉ | BM ခရီးသည်တင်ယာဉ်(လတ်)ခရီးသည်(၂၆ မှ ၃၅ ) ဦးထိ | ၃၀ |
| ၁၀ | ဟီးနိုး၊ ကာကို၊ နီဆန်း၊ ကွန်တို(၆)ဘီးကား၊ (ကုန်တင် ယာဉ်) | ၁၀၀ |
| ၁၁ | TE 11 ၊ TE 21 ၊ GMC၊ Fuso ၊ UD ကောင်တာ (၆)ဘီးကား(ကုန်တင်ယာဉ်) | ၁၀၀ |
| ၁၂ | ဟီးနိုး၊ ဟွန်ဒိုင်း၊ ဒေဝူး၊ ခရီးသည်တင်ယာဉ်(ကြီး) (ခရီးသည် ၃၆ မှ ၄၅) ဦးထိ | ၅၀ |
| ၁၃ | ခရီးသည်တင် မှန်လုံယာဉ်ကြီး (ခရီးသည် ၄၆ ဦး နှင့် အထက်) | ၅၅ |
| ၁၄ | (၆)ဘီးကား၊ဝင်ရိုး(၂)ခုပါကုန်တင်ယာဉ်ကြီး | ၁၀၀ |
| ၁၅ | (၈)ဘီးကား၊ဝင်ရိုး(၃)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၁၅ |
| ၁၆ | (၁၀)ဘီးကား၊ ဝင်ရိုး(၃)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၂၅ |
| ၁၇ | (၁၂)ဘီးကား၊ ဝင်ရိုး(၄)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၅၀ |
| ၁၈ | (၁၄)ဘီးကား၊ ဝင်ရိုး(၅)ခု (Lift Axle)ပါ ကုန်တင်ယာဉ် ကြီး (ဘီးအားလုံးလမ်းပေါ်ချ၍ မောင်းနှင်ရမည်) | ၁၇၅ |
| ၁၉ | (၁၄)ဘီးတွဲကား၊ ဝင်ရိုး(၄)ခုပါ၊ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၂၀၀ |
| ၂၀ | (၁၈)ဘီးတွဲကား၊ ဝင်ရိုး(၅)ခုပါ ၊ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၃၀၀ |
| ၂၁ | (၂၂)ဘီးတွဲကား၊ ဝင်ရိုး(၆)ခုပါ ၊ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၃၅၀ |
| ၂၂ | အမှတ်စဉ်(၁၀)မှ (၂၁)အတွင်း ပါရှိသော ကုန်တင်ယာဉ်များသာ ကုန်မပါအလွတ်ဖြစ်ပါက | ၁၀၀ |

(ဃ) ခွင့်ပြုထားသော လမ်းအပိုင်းပေါ်ရှိ တံတားများအသုံးပြုခကို ကောက်ခံရာတွင် ပေ (၁၈၀) နှင့်အထက်ရှည်သည့် တံတားများအတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့်လည်းကောင်း၊ သက်ဆိုင်ရာကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သောတံတားများအတွက် ဌာနနှင့် ကုမ္ပဏီတို့၏ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့်သာ ကောက်ခံမည်ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၈-ခ (၁) ]

(င) စတင်ကောက်ခံသည့်ပထမ(၅)နှစ်ကာလအတွက် လမ်းအသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလအတွက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၅-ပ ]

| | | |
|---|---|---|
| (၁) | ပထမ(၅)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၆)နှစ်မြောက်မှ(၁၅)နှစ် မြောက်အထိ (၁၀)နှစ် | ၅% |
| (၃) | (၁၆)နှစ်မြောက်မှ(၂၅)နှစ် မြောက်အထိ (၁၀)နှစ် | ၁၀% |
| (၄) | (၂၆)နှစ်မြောက်မှ(၃၅)နှစ် မြောက်အထိ (၁၀)နှစ် | ၁၅% |
| (၅) | (၃၆)နှစ်မြောက်မှ(၄၅)နှစ် မြောက်အထိ (၁၀)နှစ် | ၂၀% |
| (၆) | ၄၅ နှစ်ကျော်ကာလအတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော် မှ သတ်မှတ် ပေးသည့် ရာခိုင်နှုန်း အတိုင်း ပေးသွင်းရန်ဖြစ်ပါသည်။ | |

(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင်စည်းကမ်းချက်များမပါရှိဘဲ ပြန်လည်ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသူထံ ပေးအပ်ရမည်။ ကုမ္ပဏီသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက်(၃၀)အတွင်း လုပ်ငန်း စတင်ရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ သတ်မှတ် ကာလအတွင်းလုပ်ငန်းကိုပြီးစီးအောင် ဆောင်ရွက်ရန်အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူရမည် ဖြစ်ပါသည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှုလက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း(၃၀)အတွင်း ကုမ္ပဏီသို့ ပြန်လည်ထုတ်ပေးရမည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၆]

(ဆ) ကုမ္ပဏီသည် လုပ်ငန်းလုပ်ကိုင်ခွင့် ပြုသူ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်း တစ်စိတ် တစ်ဒေသကို ထပ်ဆင့် ငှားရမ်းခြင်းမပြုရ။ [စာချုပ် (မူကြမ်း) အပိုဒ်- ၅ ထ ]

(ဈ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ(ဌာန)မှ လုပ်ငန်းစတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ(ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ဖြစ်သည်။ [စာချုပ် (မူကြမ်း) အပိုဒ်- ၉ -ခ ]

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀) ( သို့မဟုတ် ) လုပ်ငန်းဆက်လက် လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့်သောကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်း ပေးရမည်ဖြစ်ပါသည်။ [စာချုပ် (မူကြမ်း) အပိုဒ်- ၂၀ ]

၃။ လုပ်ငန်းအဆိုပြုချက်ကို (နောက်ဆက်တွဲ-က)ဖြင့် ဖော်ပြထားထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၆.၁၅)သန်း အပါအဝင် ကျပ်(၂၀၈၇၉.၅၀)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက်လိုအပ်သော စက်ပစ္စည်းများ အမေရိကန်ဒေါ်လာ (၃.၃၄)သန်းဖိုး နှင့် လုပ်ငန်းသုံးပစ္စည်းများ အမေရိကန်ဒေါ်လာ(၂.၈၁)သန်းဖိုးကို ပြည်ပမှဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်သန်း |
|---|---|---|
| (က) | ငွေပမာဏ | ၁၄၄၁၅.၉၁ |
| (ခ) | အဆောက်အဦ | ၁၈၈.၈၀ |
| (ဂ) | စက်ပစ္စည်းကိရိယာများ | ၃၄၀၅.၇၈ (US$ ၃.၃၄ သန်း) |
| (ဃ) | လုပ်ငန်းသုံးပစ္စည်းများ | ၂၈၆၆.၂၀ (US$ ၂.၈၁ သန်း) |
| (င) | ပရိဘောဂများ | ၂.၈၁ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၂၀၈၇၉.၅၀ ( US$ ၆.၁၅ သန်း အပါအဝင် )** |

၄။ အဆိုပြုလုပ်ငန်းတွင် တည်ဆောက်ရေးကာလတွင် ပြည်တွင်းမှဝန်ထမ်း (၁၁၆၀) ဦးနှင့် လုပ်ငန်း ဆောင်ရွက်သည့်ကာလတွင် ပြည်တွင်းမှဝန်ထမ်း (၇၀)ဦးခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လလျှင် ကျပ် ၉၀၀၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေ | ၁၀၀၄.၇၄ |
| (ခ) အသုံးစရိတ် | ၈၈၁.၁၃ |
| (ဂ) အသားတင်အမြတ် | ၁၂၃.၆၁ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆)နှစ်မြောက်တွင် နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**ကျပ်သန်း**

| | |
|---|---|
| (က) ဝင်ငွေခွန် | ၄၁.၂၀ |
| (ခ) လမ်းဖြတ်သန်းခရငွေ | ၅၀.၂၄ |

၇။ လုပ်ငန်း၏အရင်းကြေကာလမှာ(၂၉)နှစ်နှင့်(၁၀)လဖြစ်ပြီး အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂.၇၇ % ဖြစ်ပါသည်။

၈။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီ၏ဒါရိုက်တာ ဒေါ်ဂျာလော့ဒ်အမည်ဖြင့် ကမ္ဘောဇဘဏ်ရှိ (၂၈-၄-၂၀၁၅)နေ့ ကျပ်ငွေလက်ကျန် ကျပ်(၃၇၁.၂၅)သန်း တင်ပြထားပါသည်။

၉။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းအသစ် ဖြစ်ကြောင်း၊ နိုင်ငံတော်မှ လမ်းတံတားတည်ဆောက်ပြုပြင်ဖောက်လုပ်ခြင်းနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်မှုများ ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ လမ်းမကြီးများဆိုင်ရာဥပဒေနှင့်နည်းဥပဒေများကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ နှစ်စဉ်အသားတင်အမြတ်၏ ၀.၅၀ % အား Cooperate Social Responsibility (CSR) လုပ်ငန်းတွင် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ (က၊ ဂ ၊ စ ၊ ဆ ၊ ဇ၊ ည )အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားလာပါက ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးထားသော BOT စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း (၆၁)ခု ရှိပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ မြောက်ပိုင်းတော်ဝင်ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်ရှိ မိုးမောက် - လွယ်ဂျယ်လမ်းပိုင်း(၄၇)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

NPS - 3333
17-6-15

M3-572
18/6

စာအမှတ်၊ ၁၄ / ဌာနခွဲ - ၃ / ၂၀၁၅(လမ်း)(စီ ၅၆၄)
ရက် စွဲ ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မြောက်ပိုင်းတော်ဝင် ကျောက်စိမ်းကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်၊ မိုးမောက် - လွယ်ဂျယ်လမ်းပိုင်း (၄၇)မိုင်အား B.O.T စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်တိုးချဲ့ တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက် ။ (၁) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ (၂၇)ရက်နေ့စွဲပါစာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၅(ကုမ္ပဏီ)(စီ ၂၄၆၇)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ ခုနှစ် မေလ (၂၂)ရက်နေ့စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၇၂/၂၀၁၅(၄၀၃)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ လမ်းအပိုင်းများကို B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများအနက် မြောက်ပိုင်းတော်ဝင်ကျောက်စိမ်းကုမ္ပဏီလီမိတက်မှ ဆောင်ရွက်လျက်ရှိသည့် မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း(၄၇)မိုင်၏အဆိုပြုလွှာအား ရည်ညွှန်းချက်(၁)ပါစာဖြင့် တင်ပြခဲ့ခြင်းအပေါ် ၂၀၁၅ခုနှစ် မတ်လ(၂၃)ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၁၂/၂၀၁၅)ကြိမ်မြောက် အစည်းအဝေးမှပြင်ဆင်ရမည့် အချက်များကို ပြင်ဆင်ပြီး ကော်မရှင်သို့ပြန်လည်တင်ပြသွားပါရန် ရည်ညွှန်းချက်(၂)ပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည် ။

၂။ အဆိုပါ ပြင်ဆင်ရမည့် အချက်များနှင့်ပတ်သက်၍ ကုမ္ပဏီမှ ပြင်ဆင်တင်ပြလာခြင်း အပေါ် လမ်းဦးစီးဌာနမှ စိစစ်ခဲ့ပြီးဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ ဆက်လက်တင်ပြပေးနိုင်ပါရန် ပြင်ဆင်ထားသည့် အဆိုပြုလွှာ (၁)စုံနှင့်အတူ ပြန်လည် ပူးတွဲပေးပို့အပ်ပါသည် ။

၁၆/၆/၂၀၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
စိုးတင့်၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန ။

D:/K2 2015(C3)/DM(Pg-1)





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၅(ကုမ္ပဏီ)(စီ ၂၄၆၇)
ရက် စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

သို့



မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက် မှ B.O.T စနစ်ဖြင့် ဆောင်ရွက် လျှက်ရှိသော မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း (၄၇)မိုင် အတွက် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာ တင်ပြခြင်း**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများအား B.O.T စနစ်ဖြင့်လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီများအနက် မြောက်ပိုင်းတော်ဝင် ကျောက်စိမ်းကုမ္ပဏီလီမိတက်မှဆောင်ရွက်လျှက်ရှိသည့် မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း(၄၇)မိုင်၏ အဆိုပြုလွှာနှင့် ပဋိညာဉ် စာချုပ်ပါ လိုအပ်ချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ စိစစ်အတည်ပြုချက်ရယူ၍ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးနှင့် ဆက်သွယ်ညှိနှိုင်းပြုစုပြီးဖြစ်ပါသည် ။

၂။ သို့ဖြစ်ပါ၍ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးမှ စိစစ်ပြီးဖြစ်သည့် မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း (၄၇) မိုင်၏ အဆိုပြုလွှာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ ဆက်လက်တင်ပြ ပေးနိုင်ပါရန် မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ တင်ပြလာသည့် အဆိုပြုလွှာ(၁)စုံ၊ ငွေကြေးလည်ပတ်မှု အခြေပြဇယား(၁)စောင် ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ပြန်ကြားလာသည့် စာမိတ္တူ(၁)စုံတို့ နှင့်အတူ ပူးတွဲပေးပို့အပ်ပါသည် ။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာဝင်းမြင့် ၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ယာချုပ်(လမ်း)၊ ဆောက်လုပ်ရေး ်င်း ။

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း**
**လမ်းဦးစီး**

စာအမှတ် - လစမ/BOT/မိုးမောက်-လွယ်ဂျယ်/၂၀၁၄-၂၀၁၅/၁၅၄၄
ရက်စွဲ - ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ (၁၉)ရက်

အကြောင်းအရာ။ **B.O.T စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုခြင်း**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ကချင်ပြည်နယ်၊ မိုးမောက်မြို့နယ် အတွင်းရှိ မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း (၄၇/၀) မိုင်အား B.O.T စနစ်ဖြင့် နိုင်ငံလွန်ကတ္တရာလမ်း အဖြစ် အဆင့်တိုးမြှင့် ဆောင်ရွက်ခွင့်ပြုပါရန် မြောက်ပိုင်းတော်ဝင်ကျောက်စိမ်းကုမ္ပဏီလီမိတက်မှ B.O.T ကြိုတင်ဆောင်ရွက်ခွင့် မူဝါဒ (၂၄)ချက်ဖြင့် တင်ပြလာခြင်းအပေါ် (၄.၁၁.၂၀၁၄) ရက်နေ့ တွင် ပြုလုပ်သော ဆောက်လုပ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် (၄၂/၂၀၁၄)တွင် တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးဆုံးဖြတ်ချက်အရ မိုးမောက်-လွယ်ဂျယ် လမ်းပိုင်း (၄၇/၀) မိုင်အား B.O.T စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုကြောင်းနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြနိုင်ရေးအတွက် ပြန်လည်တင်ပြသွားပါရန် အကြောင်း ကြားပါသည်။

(ကျော်လင်း)
ဦးဆောင်ညွှန်ကြားရေးမှူး

<u>မြောက်ပိုင်းတော်ဝင်ကျောက်စိမ်းကုမ္ပဏီ</u>

မိတ္တူကို
- ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန
- ဦးဆောင်ညွှန်ကြားရေးမှူး(ရုံး)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)
- ဒု-ဦးဆောင်ညွှန်ကြားရေးမှူး (စီမံကိန်း/လုပ်ငန်း)
  ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း(ရုံးချုပ်)
- အင်ဂျင်နီယာချုပ် (လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)
- ဦးစန်းဝေ၊ ဒု-အင်ဂျင်နီယာချုပ်(လေယာဉ်ကွင်း)၊ ကချင်ပြည်နယ်တာဝန်ခံ
  ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း(ရုံးချုပ်)
- အင်ဂျင်နီယာမှူးကြီး၊ ကချင်ပြည်နယ်၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
- ရုံးလက်ခံ/ မျှောစာတွဲ

Ma may thu (Su)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

M3-240
6/3

NDI 1429
3.3.15

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၅(ကုမ္ပဏီ)(စီ ၂၄၆၇)
ရက် စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက် မှ B.O.T စနစ်ဖြင့် ဆောင်ရွက် လျက်ရှိသော မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း (၄၇)မိုင် အတွက် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာ တင်ပြခြင်း**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများအား B.O.T စနစ်ဖြင့်လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီများအနက် မြောက်ပိုင်းတော်ဝင် ကျောက်စိမ်းကုမ္ပဏီလီမိတက်မှဆောင်ရွက်လျှက်ရှိသည့် မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း(၄၇)မိုင်၏ အဆိုပြုလွှာနှင့် ပဋိညာဉ် စာချုပ်ပါ လိုအပ်ချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ စိစစ်အတည်ပြုချက်ရယူ၍ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးနှင့် ဆက်သွယ်ညှိနှိုင်းပြုစုပြီးဖြစ်ပါသည် ။

၂။ သို့ဖြစ်ပါ၍ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးမှ စိစစ်ပြီးဖြစ်သည့် မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း (၄၇) မိုင်၏ အဆိုပြုလွှာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ ဆက်လက်တင်ပြ ပေးနိုင်ပါရန် မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ တင်ပြလာသည့် အဆိုပြုလွှာ(၁)စုံ၊ ငွေကြေးလည်ပတ်မှု အခြေပြဇယား(၁)စောင် ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ပြန်ကြားလာသည့် စာမိတ္တူ(၁)စုံတို့ နှင့်အတူ ပူးတွဲပေးပို့အပ်ပါသည် ။

၂၄/၂/၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာဝင်းမြင့် ၊ ဒုတိယဝန်ကြီး

26/2

မိတ္တူကို
- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ဂျင်နီယာချုပ်(လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

**ကုမ္ပဏီမှ တင်ပြလာသည့် ငွေကြေးလည်ပတ်မှု အခြေပြဇယား**

| စဉ် | လမ်းအမည် | ကုမ္ပဏီအမည် | I.R.R (%) | အရင်းကြေကာလ(နှစ်) | (၁)ရက်လျှင်သွားသည့်ယာဉ်စီးရေ | (၁)နှစ်ယာဉ်တိုးနှုန်း (%) | ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) |
|---|---|---|---|---|---|---|---|
| ၁။ | မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း | မြောက်ပိုင်းတော်ဝင်ကျောက်စိမ်းကုမ္ပဏီလီမိတက် | ၂.၉၂ | (၂၉) နှစ် | ၆၆၀ | - | ၂၀၈၇၉.၅၀၀ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပြည်ထောင်စုရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅) ၄ - ၅ / နပတ(၁၅၆ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ ဖေဖော်ဝါရီလ ၃၃ ရက်

အကြောင်းအရာ။ **ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် မြောက်ပိုင်းတော်ဝင်ကျောက်စိမ်းကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးရန်ကိစ္စ**

ရည် ညွှန်း ချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏၂၆-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁/ခွဲ -၂ /ထွေ/ ၂၀၁၅(ကုမ္ပဏီ)(စီ ၇၉၇)

၁။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသည် မြောက်ပိုင်းတော်ဝင်ကျောက်စိမ်းကုမ္ပဏီလီမိတက်နှင့် မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း(၄၇)မိုင်ကို B.O.T စနစ်ဖြင့် လမ်းဖောက်လုပ်ပြုပြင်အဆင့်မြှင့်တင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် လွှဲပြောင်းပေးခြင်းဆောင်ရွက်ရန် ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် ဥပဒေကြောင်းအရ သဘောထားမှတ်ချက်ပေးပါရန်ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်စာဖြင့် ပေးပို့လာသောစာချုပ်(မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း အကြံပြုအပ် ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ် ၆အရလုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကိုပြည်ထောင်စုမြန်မာနိုင်ငံတော်ငွေရေးကြေးရေးဆိုင်ရာအဖွဲ့အစည်းများဥပဒေနှင့် ဗဟိုဘဏ်ဥပဒေများအရ ဗဟိုဘဏ်မှ တရားဝင်ဘဏ်လုပ်ငန်းလုပ်ကိုင်ခွင့်ပြုချက်ရရှိထားပြီး တရားဝင်ဘဏ် လုပ်ငန်းလုပ်ကိုင်လျက်ရှိသည့်

နိုင်ငံတော်ဘဏ် သို့မဟုတ် ဘဏ်တစ်ခုခု၌ထားရှိသင့်ပါသည်။ ဘဏ်အာမခံပုံစံမှာ သက်ဆိုင်ရာဘဏ်က သတ်မှတ်ထားသော ဘဏ်အာမခံပုံစံဖြစ်ရန်လိုအပ်ပြီး စာချုပ် (မူကြမ်း)ပါ စည်းကမ်းချက်များနှင့် ညီညွတ်ရန်လိုအပ်ပါသည်။ ထို့အပြင် အဆိုပါ ဘဏ်အာမခံပုံစံအား စာချုပ်တွင် နောက်ဆက်တွဲအဖြစ် ပူးတွဲဖော်ပြရန်ဖြစ်ကြောင်း သုံးသပ်အကြံပြုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) ပါ ကွက်လပ်များကို စာချုပ်များချုပ်ဆိုချိန်၌ ပြည့်စုံစွာ ဖော်ပြထားရန်လိုအပ်ပါသည်၊

(ဂ) လိုအပ်သောနေရာ အချို့၌ မင်နီဖြင့် ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေး ရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၅။ မြောက်ပိုင်းတော်ဝင်ကျောက်စိမ်းကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိမရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့နှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၆။ ဤ စာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၇။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် ( ကိုယ်စား )
( ဒေါက်တာသီသီမြင့်၊ ညွှန်ကြားရေးမှူး)

ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ

ကန့်သတ်

| |
|---|
| ကြေးနန်းလိပ်စာ -"စီစစ်တိုး" |
| တယ်လီဖုန်းအမှတ်- ၄၀၆၀၆၅ |
| - ၄၀၆၀၆၆ |
| - ၄၀၆၀၆၇ |
| - ၄၀၆၀၆၈ |
| - ၄၀၆၀၆၉ |
| - ၄၀၆၀၇၀ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂၊ နေပြည်တော်

စာအမှတ်၊စစတ-ဦး/၇၂၀(၈၅၂/၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၉ ရက်

NPT-1875
20.3.15

M&-302
24/3

**အမှာစာ**

အကြောင်းအရာ။ **မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ် မိုးမောက်-လွယ်ဂျယ် လမ်းပိုင်း (၄၇) မိုင်အတွက် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၆-၃-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၁၄၂၇/၂၀၁၅(၁၉၃-င)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ မြောက်ပိုင်းတော်ဝင်ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ် မိုးမောက်-လွယ်ဂျယ် လမ်းပိုင်း (၄၇) မိုင်အား B.O.T စနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် စီးပွားရေးတွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပြီး တွေ့ရှိချက်များပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှုအဆိုပြုလွှာပါ ငွေသားစီးဆင်းမှုစာရင်းများကိုအခြေခံ၍ စိစစ် တွက်ချက်ရာအောက်ပါအတိုင်းတွေ့ရှိရပါကြောင်းပြန်ကြားအပ်ပါသည်-

(က) ငွေသားစီးဆင်းမှုစာရင်း (Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၃% ရှိသဖြင့် ကုမ္ပဏီမှ တွက်ချက်တင်ပြထားသည်နှင့် ကိုက်ညီမှုရှိသည်ကိုတွေ့ရှိရပါကြောင်း၊

(ခ) အရင်းအနှီး၏အခွင့်အလမ်းစရိတ် ၁၂% ဖြင့် တွက်ချက်ပါက အကျိုးအမြတ်နှင့် ကုန်ကျစရိတ် အချိုးမှာ ၀.၃၇ ရှိပြီး အသားတင်လက်ငင်း တန်ဖိုးမှာ ကျပ်ငွေ (-၁၅၁၆၀.၆၆) သန်းဖြစ်သည်ကို တွေ့ရှိရပါကြောင်း၊

(ဂ) တွက်ချက်ရရှိသောအရင်းကြေကာလမှာ ၂၉ နှစ်နှင့် ၁ လဖြစ်ပြီးအဆိုပြုလွှာပါ အရင်းကြေကာလနှင့် ကိုက်ညီမှုသည်ကိုတွေ့ရှိရပါကြောင်း၊

(ဃ) မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကျပ်ငွေ ၂၀၈၇၉.၅၀ သန်းဖြင့် အကောင်အထည်ဖော် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊

Thiri (MIC)

ကန့်သတ်

(င) **လူမှုရေးအကျိုးသက်ရောက်မှုအနေဖြင့်** နိုင်ငံအတွင်း ဝန်ထမ်း ၇၀ ဦး အလုပ်အကိုင်အခွင့်အလမ်းများရရှိနိုင်မည် ဖြစ်ပါကြောင်းနှင့် ဝန်ထမ်းများအတွက် သက်သာချောင်ချိရေး အစီအစဉ်များဆောင်ရွက်ထားရှိမည်ဟုဖော်ပြပါရှိပါကြောင်း၊

(စ) **ပတ်ဝန်းကျင်အပေါ်အကျိုးသက်ရောက်မှုများ**အတွက် မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်များနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် အစီအစဉ်များ ဆောင်ရွက်ထားရှိမည်ဟုဖော်ပြ ပါရှိပါကြောင်းနှင့် အဆိုပါအစီအမံများအား လေးစားလိုက်နာရန်လိုအပ်ပါကြောင်း၊

(ဆ) အဆိုပါရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်ခြင်းဖြင့် နိုင်ငံသားများ၏ အလုပ်အကိုင် အခွင့်အလမ်းများ တိုးတက်မှုတစ်ဆင့် စီးပွားရေးဖွံ့ဖြိုးတိုးတက် လာနိုင်စေခြင်း၊ လမ်းပန်းဆက်သွယ်ရေး ပိုမိုကောင်းမွန်လာပြီး ကုန်စည်စီးဆင်းမှု လျှင်မြန်သွက်လက်လာခြင်းနှင့် နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန် ဘဏ္ဍာငွေများ ရရှိလာနိုင်ခြင်းတို့ကို တွေ့ရှိရပါကြောင်း။

၁၉.၉.၂၀၁၇

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ခင်နွဲ့ရီ၊ ဒုတိယညွှန်ကြားရေးမှူး)

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

Thiri (MIC)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရက-၄/မ-၁၄၇၂/၂၀၁၅( ၁၃၃ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၆ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **မြောက်ပိုင်းတော်ဝင် ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်ရှိ မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း (၄၇)မိုင်အား BOTစနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြောက်ပိုင်းတော်ဝင်ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်ရှိ မိုးမောက် - လွယ်ဂျယ် လမ်းပိုင်း(၄၇)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုတင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့် စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မြောက်ပိုင်းတော်ဝင်ကျောက်စိမ်း ကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်ရှိ မိုးမောက်-လွယ်ဂျယ်လမ်းပိုင်း (၄၇)မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ကြိုတင်စိစစ်ပေးပါရန် တင်ပြခြင်းအပေါ် အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင် ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်းနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ



Nothern-PAT memo

# မြောက်ပိုင်းတော်ဝင် ကျောက်စိမ်းကုမ္ပဏီလီမိတက်၏ ကချင်ပြည်နယ်ရှိ မိုးမောက် - လွယ်ဂျယ်လမ်းပိုင်း(၄၇) မိုင်အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းနှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မြောက်ပိုင်းတော်ဝင် ကျောက်စိမ်းကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးလဆန်(အဘ-ဦးကရင်ကမ်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ကချင်ပြည်နယ် မိုးမောက်-လွယ်ဂျယ် လမ်းပိုင်း(၄၇)မိုင် အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - ကချင်ပြည်နယ် မိုးမောက်-လွယ်ဂျယ် လမ်းပိုင်း (၄၇) မိုင် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦ<br>- ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | - **ကျပ် ၂၀၈၇၉.၅၀ သန်း (US$ ၆.၁၅ သန်းအပါအဝင်)**<br>ကျပ် ၁၄၄၁၅.၉၁ သန်း<br>သန်း ၃၄၀၅.၇၈ သန်း (US$ ၃.၃၄ သန်း)<br>ကျပ် ၁၈၈.၈၀ သန်း<br>ကျပ် ၂၈၆၉.၁၁ သန်း (US$ ၂.၈၁ သန်း) |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၄၅) နှစ် |
| ၇။ | လမ်းတံတားအသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ | - ဂိတ်(၁)- မိုးမောက်<br>ဂိတ်(၂)- လွယ်ဂျယ် |
| ၈။ | ဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၁၀၀၄.၇၄ သန်း |
| ၉။ | အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၉၄.၉၂ သန်း |
| ၁၀။ | ဝန်ထမ်းအင်အား (ပြည်တွင်း)<br>- တည်ဆောက်ရေးကာလ<br>- လုပ်ငန်းဆောင်ရွက်သည့်ကာလ | <br>- ၁၁၆၀ ဦး<br>- ၇၀ ဦး |
| ၁၁။ | အရင်းကြေကာလ | - ၂၉ နှစ် နှင့် ၁ လ |
| ၁၂။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ် နှုန်း(IRR) | - ၂.၈၉ % |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်)<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခရငွေ | <br><br>- ကျပ် ၃၁.၆၄ သန်း<br>- ကျပ် ၅၀.၂၄ သန်း |
| ၁၄။ | ငွေကြေးအထောက်အထား | - တင်ပြထားခြင်းမရှိပါ။ |

